ကုမ္ပဏီအမည် - Perfect Companion (Myanmar) Company Limited.

လုပ်ငန်း - **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ခွေး၊ ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၁-၃-၂၀၁၆ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီရေးရာဌာနခွဲသို့ ပေးပို့ အကြောင်းကြားခြင်း | ၃၀-၃-၂၀၁၆ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၂၉-၃-၂၀၁၆ | ၄-၅-၂၀၁၆ | |
| | (ခ) စက်မှုဝန်ကြီးဌာန | ၂၉-၃-၂၀၁၆ | ၂၇-၄-၂၀၁၆ | |
| | (ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၂၈-၃-၂၀၁၆ | ၅-၄-၂၀၁၆ | |
| | (ဃ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၁-၄-၂၀၁၆ | ၁၃-၆-၂၀၁၆ | |
| | | ၈-၇-၂၀၁၆ | ၁-၈-၂၀၁၆ | |
| ၄ | PAT တင်ပြခြင်း(၁၃/၂၀၁၆) | ၂၈-၃-၂၀၁၆ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၃၀-၃-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၄-၇-၂၀၁၆ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၆-၉-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၁၇၈ ရက်** | | |

၁။ ကုမ္ပဏီအမည် — Perfect Companion (Myanmar) Company Limited.

၂။ အဖွဲ့အစည်းပုံသဏ္ဍာန် — ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

၃။ လုပ်ငန်းအမျိုးအစား — ခွေး၊ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း

၄။ တည်နေရာ — ပဲခူးတိုင်းဒေသကြီး၊ပဲခူးမြို့နယ်၊ဥဿာ(၉)ကျေးရွာအုပ်စု၊ အထူးဇုန်(၃)၊မြေကွက်အမှတ် -၂၁+၂၄၊

၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု — အမေရိကန်ဒေါ်လာ ၂၁.၈၈၉ သန်း ✓

၆။ ရောင်းချမည့်စနစ် — ၂၀% ပြည်ပတင်ပို့၊ ၈၀% ပြည်တွင်းရောင်း

၇။ လုပ်ငန်းသက်တမ်း — ၅၀ နှစ်

၈။ အရင်းကြေကာလ — ၅ နှစ် ၁၁ လ

၉။ IRR — ၃၀.၈၉%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၅၈၅.၇၈၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၀ | ၀ |
| ၅ | ဝင်ငွေခွန် | ၃၂၇၆.၉၄၀ | ၁၀၁၉၇.၇၉၉ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၂၅၈၅.၂၁၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း လေးဆယ့်ရှစ်သိန်း ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း(၁၁)ဦး |
| ၈ | CSR (၃%) | | ၃၉၃.၀၆၅ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၃၀၁.၆၃၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၆၅ ဦး<br>ပြည်ပ ၁၈ ဦး<br>ပြည်တွင်းလုပ်သား (၆၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၃၈၆၄.၈၈၀ | ၁၄၄၇၈.၈၆၉ |
| | **Cost & Benefit** | ၁း၄ | |

အကြောင်းအရာ။ **ရခိုင်ပြည်နယ်ပြည့်နှိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Perfect Companion (Myanmar) Company Limited မှ ခွေး၊ ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Perfect Companion (Myanmar) Company Limited<br>- Mr. Somkiat Dankul (Thailand) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ခွေး၊ ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန် အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၂၁+၂၄၊ အထူးဇုန်(၃)၊ ဥဿာ(၉) ကျေးရွာအုပ်စု၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၁၀ ဧက (၄၀,၄၆၈.၆ စတုရန်းမီတာ) |
| | မြေငှားသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - ပထမ ၁၀ နှစ်အတွက် ၁စတုရန်းမီတာလျှင် US$ ၂.၅ နှုန်း<br>- ဒုတိယ ၁၀ နှစ်အတွက် ၁စတုရန်းမီတာလျှင် US$ ၃.၀ နှုန်း<br>- တတိယ ၁၀ နှစ်အတွက် ၁စတုရန်းမီတာလျှင် US$ ၃.၅ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် ( ၁၀ နှစ် သက်တမ်းတိုး ၂ ကြိမ်) |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၂၁.၈၈၉ သန်း |
| | - ငွေသား | - US$ ၅.၀၈၃ သန်း |
| | - စက်ပစ္စည်း(ပြည်ပဝယ်) | - US$ ၉.၀၉၁ သန်း |
| | - စက်ပစ္စည်း (ပြည်တွင်းဝယ်) | - US$ ၇.၂၇၈ သန်း |
| | - စက်အပိုပစ္စည်း(ပြည်ပဝယ်) | - US$ ၀.၀၃၄ သန်း |
| | - ရုံးသုံးပရိဘောဂ(ပြည်တွင်းဝယ်) | - US$ ၀.၂၇၈ သန်း |
| | - မော်တော်ယဉ်(ပြည်တွင်းဝယ်) | - US$ ၀.၁၂၅ သန်း |
| | **စုစုပေါင်း** | **US$၂၁.၈၈၉ သန်း** |
| ၆။ | ဝန်ထမ်းအင်အား | - **၈၃ ဦး**<br>- **ပြည်တွင်း ၆၅ ဦး** (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၉၅၀,၀၀၀ ကျပ်)<br>- **ပြည်ပ ၁၈ ဦး** (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၂၁၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၂,၀၀၀,၀၀၀ ကျပ်) |
| ၇။ | ရောင်းချမည့်စနစ် | - ၂၀% ပြည်ပတင်ပို့၊ ၈၀% ပြည်တွင်းရောင်း<br>- |

| | | |
|---|---|---|
| ၈ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် | စဉ် / ပစ္စည်း အမျိုးအစား / အရေအတွက် (တန်) / ရောင်းချမည့်ဈေးနှုန်း (ကျပ်/တန်) |
| | ( ၂၀% ပြည်ပတင်ပို့) | (၁) Dog Feed ၄၀၀ ၁,၂၅၀.၀၀ |
| | | (၂) Cat Feed ၃,၄၀၀ ၁,၄၄၄.၃၆ |
| | | (၃) အခြား တိရိစ္ဆာန် အစာ (ယုန်၊ သာလိကာ၊ ငါး) ၂၀၀ ၃,၃၃၃.၃၄ |
| | ( ၈၀% ပြည်တွင်းရောင်း) | (၁) Dog Feed ၃,၈၂၀ ၁,၆၁၀,၉၂၅ |
| | | (၂) Cat Feed ၃၂,၄၇၀ ၁,၈၆၁,၄၂၅ |
| | | (၃) အခြား တိရိစ္ဆာန် အစာ (ယုန်၊ သာလိကာ၊ ငါး) ၁,၉၁၀ ၄,၂၉၅,၈၀၀ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၄၉.၂၃၁ သန်း |
| | အသုံးစရိတ် | - US$ ၄၄.၃၃၉ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - US$ ၄.၈၉၂ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် ဝင်ငွေခွန် | - US$ ၂.၀၉၇ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၁၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃၀.၈၉% |
| | CSR | - အသားတင်အမြတ်၏၃%ကိုလျာထားသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၆၀၄,၈၀၀ ယူနစ် |
| ၁၂။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးဘေးလုံခြုံရေးဧရိယာ ပိုင်းခြားသတ်မှတ်ခြင်း၊ ကြိုတင် ကာကွယ်ရေးနည်းလမ်းများ၊ မီးလောင်စဉ် ဆောင်ရွက်ရန် နည်းလမ်းများနှင့်မီးလောင်မှုဖြစ်ပွားပြီးနောက် ဆောင်ရွက်ရန် နည်းလမ်းများကိုစနစ်တကျစီမံခန့်ခွဲ ရေးဆွဲထားပါသည်။ |
| ၁၃။ | အခြားတင်ပြချက် | - ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Perfect Companion Group Co., Ltd. တို့ ချုပ်ဆိုထားသော မြေငှားသဘောတူ |

| | | |
|---|---|---|
| | | စာချုပ်၊<br>- ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Perfect Companion Group Co., Ltd. တို့ ချုပ်ဆိုထားသော မြေငှားသဘောတူစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊<br>- Perfect Companion Group Co., Ltd. (Thailand) နှင့် Perfect Companion (Myanmar) Co., Ltd. တို့ ချုပ်ဆိုမည့် ချေးငွေစာချုပ် (မူကြမ်း)<br>- ထိုင်းနိုင်ငံရှိ Bangkok Bank တွင် Perfect Companion Group Co., Ltd. သည် ၃၁-၈-၂၀၁၆ ရက်စွဲဖြင့် THB ၅၉၄,၁၈၁,၉၁၃.၆၂ (US$ ၁၇,၀၁၉,၉၀၅.၂၉) ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- ထိုင်းနိုင်ငံရှိ Perfect Companion Group Co., Ltd. ၏ ၂၀၁၂-၂၀၁၃ နှင့်၂၀၁၃-၂၀၁၄ ဘဏ္ဍာရေးနှစ်များအတွက် စာရင်းစစ်အစီရင်ခံစာ မိတ္တူများ၊<br>- Perfect Companion Group Co., Ltd. (Thailand) ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ၊ MOA နှင့် AOA တို့ကို တင်ပြထားပါသည်။<br>- Perfect Companion (Myanmar) Company Limited ၏ MOA နှင့် AOA (မူကြမ်း) များကို တင်ပြထားပါသည်။<br>- Perfect Companion (Myanmar) Company Limited ၏ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport (မိတ္တူ) တို့ကို တင်ပြထားပါသည်။<br>- စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင် |

| | | |
|---|---|---|
| ၁၄။ | စိစစ်တင်ပြချက် | - မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- မြေစာရင်းပုံစံ-၁၀၅ နှင့် ၁၀၆တွင် ပဲခူးတိုင်းဒေသကြီး စက်ရုံအလုပ်ရုံများ တည်ထောင်ရေး လုပ်ငန်း ကြီးကြပ်ရေးကော်မတီအဖွဲ့ အမည်ပေါက် ရယူထားပြီး မြေငှားရမ်းသဘောတူစာချုပ်တွင်မူ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Perfect Companion Group Co., Ltd. (Thailand) တို့ချုပ်ဆိုထားကြောင်းတွေ့ရှိရပြီး မြေငှားရမ်းခြင်း သဘောတူစာချုပ်အား မြန်မာနိုင်ငံတွင် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် Perfect Companion (Myanmar) Company Limited နှင့် ပဲခူးတိုင်းဒေသကြီးစက်ရုံအလုပ်ရုံများ တည်ထောင်ရေး လုပ်ငန်း ကြီးကြပ်ရေးကော်မတီ တို့ဖြင့် ပြန်လည်ပြင်ဆင်ချုပ်ဆိုသင့်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- APro နှင့် Me-O ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ် ရောင်းချမည်ဖြစ်ပါသည်။<br>- ငွေလဲလှယ်နှုန်း အနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁၂၈၈.၇၄ ဖြစ်ဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/န-၁၄၇/၂၀၁၆( ၉၆၉ )
ရက်စွဲ ၊၂၀၁၆ခုနှစ် စက်တင်ဘာလ ၂၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Perfect Companion (Myanmar) Company Limited မှ ခွေး၊ ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ ထိုင်းနိုင်ငံ Perfect Companion Group Company Limited မှ ၉၉% နှင့် ထိုင်းနိုင်ငံသား Mr. Phongthep Chiaravanont မှ ၁% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Perfect Companion (Myanmar) Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဥသာ(၉) ကျေးရွာအုပ်စု၊ အထူးဇုန်(၃)၊ မြေကွက်အမှတ်-၂၁+၂၄ ရှိ စုစုပေါင်း မြေဧရိယာ ၁၀ ဧက (၄၀,၄၆၈.၆ စတုရန်းမီတာ) ကို ငှားရမ်းကာ ခွေး၊ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန် အစားအစာ များအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် မြေငှားသူ Perfect Companion Group Company Limited တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ် (မိတ္တူ) တင်ပြထားပါသည်။ အဆိုပါမြေငှားစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။ မြေအထောက်အထားအဖြစ် ပဲခူးတိုင်းဒေသကြီး စက်ရုံအလုပ်ရုံများ တည်ထောင်ရေးလုပ်ငန်း ကြီးကြပ်ရေးကော်မတီ အဖွဲ့အမည်ဖြင့် မြေလုပ်ပိုင်ခွင့်အထောက်အထားများ တင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားပြီး ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ထိုင်းနိုင်ငံ Perfect Companion Group Company Limited တို့ ချုပ်ဆိုထားသည့် သဘောတူစာချုပ်ကို တင်ပြထားပါသည်။ မြေငှား စာချုပ်ပါ အဓိကအချက်အလက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေငှားသက်တမ်း မှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် ဖြစ်ပါသည်။

(ခ) မြေအကျယ်အဝန်းမှာ စုစုပေါင်း ၁၀ဧက (၄၀,၄၆၈.၆ စတုရန်းမီတာ) ဖြစ်ပြီး ပထမ ၁၀ နှစ် အတွက် ၁ စတုရန်းမီတာလျှင် US$ ၂.၅ နှုန်း၊ ဒုတိယ ၁၀ နှစ်အတွက် ၁ စတုရန်းမီတာလျှင် US$ ၃.၀ နှုန်း၊ တတိယ ၁၀ နှစ်အတွက် ၁စတုရန်းမီတာလျှင် US$ ၃.၅ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်း အမေရိကန်ဒေါ်လာ ၂၁.၈၈၉ သန်း ဖြစ်၍ ချေးငွေ အမေရိကန်ဒေါ်လာ ၁၃.၈၈၉ သန်း ပါဝင်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | US$ ၅.၀၈၃သန်း |
| (ခ) | စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | US$ ၉.၀၉၁ သန်း |
| (ဂ) | စက်နှင့် စက်ပစ္စည်း (ပြည်တွင်းဝယ်) | US$ ၇.၂၇၈ သန်း |
| (ဃ) | စက်အပိုပစ္စည်း (ပြည်ပဝယ်) | US$ ၀.၀၃၄ သန်း |
| (င) | ရုံးသုံးပရိဘောဂ (ပြည်တွင်းဝယ်) | US$ ၀.၂၇၈ သန်း |
| (စ) | မော်တော်ယာဉ် (ပြည်တွင်းဝယ်) | US$ ၀.၁၂၅ သန်း |
| | **စုစုပေါင်း** | **US$ ၂၁.၈၈၉ သန်း** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၆၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၉၅၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းဦးရေ ၁၈ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၂၁၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၂,၀၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ ၂၀% တင်ပို့ ရောင်းချပြီး ပြည်တွင်းတွင်လည်း ၈၀% ရောင်းချမည်ဖြစ်ပါသည်။

(က) အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်ပထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Ton) | ရောင်းချမည့်ဈေးနှုန်း (US$/Ton ) |
|---|---|---|---|
| (၁) | Dog Feed | ၄၀၀ | ၁,၂၅၀.၀၀ |
| (၂) | Cat Feed | ၃,၄၀၀ | ၁,၄၄၄.၃၆ |
| (၃) | အခြားတိရိစ္ဆာန် အစာ (ယုန်၊ သာလိကာ၊ ငါး) | ၂၀၀ | ၃,၃၃၃.၃၄ |

(ခ) အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (တန်) | ရောင်းချမည့်ဈေးနှုန်း (ကျပ်/ တန်) |
|---|---|---|---|
| (၁) | Dog Feed | ၃,၈၂၀ | ၁,၆၁၀,၉၂၅ |
| (၂) | Cat Feed | ၃၂,၄၇၀ | ၁,၈၆၁,၄၂၅ |
| (၃) | အခြားတိရိစ္ဆာန် အစာ (ယုန်၊ သာလိကာ၊ ငါး) | ၁,၉၁၀ | ၄,၂၉၅,၈၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | အမေရိကန်ဒေါ်လာ(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၉.၂၃၀ |
| (ခ) | အသုံးစရိတ် | ၄၄.၃၃၉ |
| (ဂ) | အသားတင်အမြတ် | ၄.၈၉၂ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၂.၀၉၇ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၃၀.၈၉% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါ သည်-

(က) **စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန** မှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ လုပ်ငန်းများ ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ အတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန် လိုအပ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ

အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်** မှ default rate မြင့်မားခြင်းနှင့် ချေးငွေ သက်တမ်း ရေရာမှုမရှိခြင်းတို့အား ပြင်ဆင်၍ ချေးငွေစာချုပ်နှင့်အတူ ပြန်လည်ပေးပို့လာခြင်းအား စိစစ်တွေ့ရှိရသဖြင့် သဘောထားမှတ်ချက်ထပ်မံပေးရန် မရှိပါကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရပြီး အမှန်တကယ် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါတွင် equity အား အနည်းဆုံး ၈၀% သွင်းယူလာပြီးနောက် ချေးငွေယူဆောင်လာခွင့်ပြုပါရန် မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ ထပ်မံတင်ပြရန်လိုအပ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ထိုင်းနိုင်ငံရှိ Bangkok Bank တွင် Perfect Companion Group Co., Ltd. သည် ၃၁-၈-၂၀၁၆ ရက်စွဲဖြင့် THB ၅၉၄, ၁၈၁, ၉၁၃.၆၂ (US$ ၁၇, ၀၁၉, ၉၀၅.၂၉) ငွေကြေးအထောက်အထား တင်ပြထားပါသည်။

၁၂။ Perfect Companion (Myanmar) Company Limited မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် မတ်လ ၂၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ မြေစာရင်းပုံစံ-၁၀၅ နှင့် ၁၀၆တွင် ပဲခူးတိုင်းဒေသကြီး စက်ရုံအလုပ်ရုံများ တည်ထောင်ရေး လုပ်ငန်း ကြီးကြပ်ရေး ကော်မတီအဖွဲ့ အမည်ပေါက် ရယူထားပြီး မြေငှားရမ်း သဘောတူစာချုပ်တွင်မူ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Perfect Companion Group Co., Ltd. (Thailand) တို့ ချုပ်ဆိုထားကြောင်းတွေ့ရှိရပြီး မြေငှားရမ်းခြင်း သဘောတူစာချုပ်အား မြန်မာနိုင်ငံတွင် အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် Perfect Companion (Myanmar) Company Limited နှင့် ပဲခူးတိုင်းဒေသကြီး စက်ရုံအလုပ်ရုံများ တည်ထောင်ရေးလုပ်ငန်း ကြီးကြပ်ရေး ကော်မတီ တို့ဖြင့် ပြန်လည်ပြင်ဆင် ချုပ်ဆိုသင့်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Perfect Companion (Myanmar) Company Limited တည်ထောင်ကာ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဥသျှာ(၉) ကျေးရွာအုပ်စု၊ အထူးဇုန်(၃)၊ မြေကွက်အမှတ်-၂၁+၂၄ ရှိ စုစုပေါင်း မြေဧရိယာ ၁၀ ဧက (၄၀,၄၆၈.၆ စတုရန်းမီတာ) ကို ငှားရမ်းကာ ခွေး၊ ကြောင်အစားအစာနှင့် အခြားတိရစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်



Perfect Companion (Myanmar) Company Limited ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Perfect Companion (Myanmar) Company Limited | (a) Mr. Phongthep Chiaravanont<br>Thai<br>PP.N0:3101300454346<br>Director | 45 Soi Sangngern, Klongton Nuea,Vadhana District, Bangkok,Thailand |
| | | (b) Mr. Somkiat Dankul<br>Thai<br>PP.No:3100800602441<br>Director and Managing Director | 30/380 Soi Nawamin 82, Nuanchan, Buengkum District, Bangkokok,Thailand |
| | | (c) Mrs.Benjaporn Sunghitakul<br>Thai<br>PP.No:310200187932<br>Director | 101/11 Bangweak Road, Bangphai,Bangkhae District, Bangkok,Thailand |
| | | (d) Mr.Phongtron Kavanna<br>Thai<br>PP.No:3300100458299<br>Director | 69/94 Moo 10, Watchan, Muang, Phitsanuloke,Thailand. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၈၆၀၃၄၃၆၊ ၀၉-၄၂၅၀၁၈၉၄၂

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - No.94, Union Business Centre, Suite 05-01, 5th Floor, Nat Mauk Road, Bo Cho Quarter, Bahan Township, Yangon.

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်ယဉ်ယဉ်ဟန်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ခွေး၊ ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

ကန့်သတ်

နောက်ဆက်တွဲ-က

MIC 1773
4/5



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

NPT-1004
3.5.2016

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၈၀၅ /၂၀၁၆)
ရက်စွဲ၊ ၂ ၀ ၁ ၆ ခုနှစ် ၊ မေ လ ၂ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉-၃-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၂/ န- ၁၄၇/ ၂၀၁၆(၂၇၇)
(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၂၇-၄-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ညကခ/ သထ/ စက်ရုံ/ ၂၀၁၆ (၂၆၆)

၁။ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Perfect Companion (Myanmar) Company Limited တည်ထောင်ကာ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုဇုန်နယ်မြေ၊ မြေကွက်အမှတ် - ၂၁+၂၄ ရှိ စုစုပေါင်းမြေဧရိယာ ၁၀ ဧက (၄၀,၄၆၈.၆ စတုရန်းမီတာ) ကို ငှားရမ်းကာ ခွေး၊ ကြောင် အစားအစာနှင့် အခြားတိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်း နှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Perfect Companion (Myanmar) Company Limited မှ ခွေး၊ ကြောင် အစားအစာနှင့် အခြားတိရစ္ဆာန်အစား အစာများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စအပေါ် ၂၈-၃-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့(၁၃/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးတွင် ထုတ်လုပ်မည့် Pet Food ထုတ်လုပ်ဖြန့်ချီရောင်းချမှုနှင့် ပတ်သက်၍ (Technical) အချက်အလက်နှင့်ပတ်သက်ပြီးကန့်ကွက်ရန်မရှိကြောင်း ဆွေးနွေးခဲ့သည့် သဘောထားမှတ်ချက်အား မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်းချက် (၂) ပါစာဖြင့် တင်ပြထားပါသည်။

၃။ သို့ဖြစ်ပါ၍ Perfect Companion (Myanmar) Company Limited မှ ခွေး၊ ကြောင် အစားအစာနှင့် အခြားတိရစ္ဆာန်အစား အစာများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ။

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) Perfect Companion (Myanmar) Company Limited

(၃) ရုံးလက်ခံ

(၄) မျှော

နောက်ဆက်တွဲ- ခ



TIC, 170
27/4

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၆-၂၀၁၇(၀၉၅)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၃.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၄၇ / ၂၀၁၆ (၂၇၆)

၁။ Perfect Companion (Myanmar) Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုဇုန်နယ်မြေ၊ မြေကွက်အမှတ်(၂၁+၂၄)တွင် ခွေး၊ ကြောင်အစားအစာနှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ခွေး၊ ကြောင် အစားအစာနှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ယင်းအစီအမံအတွက် အမြတ်ငွေ၏ ၃% သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ဤဝန်ကြီးဌာနအနေဖြင့် ခွေး၊ ကြောင်အစားအစာများ ထုတ်လုပ်ခြင်းမရှိပါ သဖြင့် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အမျိုးအစား ညီညွတ်မှု ရှိ-မရှိနှင့် စက်အင်အား၊ လူအင်အားအမျိုးအစား ညီညွတ်မှု ရှိ-မရှိအား စိစစ် နိုင်ခြင်း မရှိပါ။

၃။ သို့ပါ၍ Perfect Companion (Myanmar) Co.,Ltd. မှ ခွေး၊ ကြောင်အစားအစာ နှင့် အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာ တွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီး ဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၂.၄.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

MIC, 161/5/14



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၃၀ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဧပြီ လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Prefect Companion(Myanmar) Company Limited မှ ခွေး၊ ကြောင်အစားအစာနှင့်အခြားတိရိစ္ဆာန် အစားအစာများအား ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၇/ ၂၀၁၆(၂၇၅)

၁။ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Prefect Companion (Myanmar) Company Limited တည်ထောင်ကာ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုဇုန်နယ်မြေ၊ မြေကွက်အမှတ်- ၂၁+၂၄ ရှိ စုစုပေါင်းမြေဧရိယာ ၁၀ဧက(၄၀၄၆၈.၆ စတုရန်းမီတာ)ကို ငှားရမ်းကာ ခွေး၊ ကြောင်အစားအစာနှင့်အခြားတိရိစ္ဆာန်အစားအစာများအား ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀) နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ ပထမနှစ်တွင် ခွေး၊ ကြောင်အစားအစာနှင့်အခြားတိရိစ္ဆာန်အစားအစာများကို ၉၆၀၀တန်ထုတ်လုပ်သွားမည်ဖြစ်ပြီး (၁၀)နှစ်အတွင်း ၄၂၂၀၀တန်အထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ မီးဘေးလုံခြုံရေးစီမံချက်များကိုလည်းထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ပြီး လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၃%)ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility – CSR )လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း

ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ နိုင်ငံတော်မှထုတ်ပြန်ထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရန် ထိန်းသိမ်းကာကွယ်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Prefect Companion (Myanmar) Company Limited မှ တိရိစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်းလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် အသုံးပြုမည့်ကုန်ကြမ်းများမှထွက်ရှိလာမည့် စွန့်ပစ်အရည်/အစိုင်အခဲများအား စနစ်တကျစွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင်ရေထုနှင့် မြေထုညစ်ညမ်းခြင်း၊ ထွက်ရှိလာမည့် အမှုန်အမွှားများ၊ အခိုးအငွေ့များကြောင့်ပတ်ဝန်းကျင်အားအနှောက်အယှက်ဖြစ်စေခြင်း၊ ထွက်ရှိလာမည့်အနံ့အသက်ဆိုးများကြောင့် ပတ်ဝန်းကျင်ရှိပြည်သူများအား ကျန်းမာရေးထိခိုက်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Prefect Companion (Myanmar) Company Limited မှ ခွေး၊ ကြောင် အစားအစာနှင့်အခြားတိရိစ္ဆာန်များအား ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မဟုတ် )ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE)**ကိုဆောင်ရွက်ပြီးပတ်ဝန်းကျင်

ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါအချက်အလက်များအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( **Environmental Manangement Plan – EMP** )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

MIC, 247
29/7



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ ဘဏ်စိစစ်/၄(၁၉၅/၂၀၁၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ၂၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၄-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၄၇/၂၀၁၆(၃၀၄-က)

(၂) မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ ၇-၆-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မဗဘ/ ဘဏ်စိစစ်/၄(၁၄၂/၂၀၁၆)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၇-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂/န-၁၄၇/၂၀၁၆(၅၃၆-က)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် (၃) ပါစာဖြင့် မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တည်ထောင်ရန် အဆိုပြုလာသည့် Perfect Companion (Myanmar) Company Limited သည် မိခင်ကုမ္ပဏီ Perfect Companion Group Company Limited ထံမှ ချေးငွေ အမေရိကန်ဒေါ်လာ ၁၃.၈၈၉ သန်း ချေးယူနိုင်ရေး Loan Agreement ကို ပြင်ဆင်၍ ထပ်မံတင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက် တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) မြန်မာနိုင်ငံတော်ဗဟိုဘဏ်က ၇-၆-၂၀၁၆ ရက်စွဲဖြင့် ပြန်ကြားစာပါ default rate မြင့်မားခြင်းနှင့် ချေးငွေသက်တမ်း ရေရာမှုမရှိခြင်းတို့အား ပြင်ဆင်၍ ချေးငွေ စာချုပ်နှင့်အတူ ပြန်လည်ပေးပို့လာခြင်းအား စိစစ်တွေ့ရှိရသဖြင့် သဘောထား မှတ်ချက် ထပ်မံပေးရန် မရှိပါ၊

(ခ) ချေးငွေယူဆောင်လာခြင်းကို ရည်ညွှန်းချက် (၂) ပါစာ၏ အပိုဒ်ခွဲ (ဃ) ပါအတိုင်း ဆောင်ရွက်ရန်ဖြစ်ကြောင်း အသိပေး အကြောင်းကြားအပ်ပါသည်။

25/7/2016

ဥက္ကဋ္ဌ(ကိုယ်စား)
(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

မိတ္တူကို
ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

LH(M) 2 Perfect Companion(MY) Co.,Capital Brought in byLoan(25-7-2016)-9

